**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၂။ စာချုပ်ဝင်များသည် ဤသဘောတူစာချုပ်အား ချုပ်ဆိုရန် အခွင့်အာဏာရှိကြသူများဖြစ်ပြီး ဤစာချုပ်ပါ လုပ်ငန်းများကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံ၍ လုပ်ပိုင်ခွင့်ရှိကြသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံကြပါသည်။

**အဓိပ္ပါယ်ဖွင့်ဆိုချက်များ**

၃။ အောက်ပါစကားရပ်များသည် ဤစာချုပ်တွင် ရှေ့နောက်ဆန့်ကျင် ကွဲလွဲမှု မရှိလျှင် ဖော်ပြပါအတိုင်း အဓိပ္ပါယ် သက်ရောက်စေရမည်-

(က) "ကုမ္ပဏီ"ဆိုသည်မှာ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် အစုရှယ်ယာများနှင့်ပေးရန်တာဝန်ကန့်သတ်လျှက် ဖွဲ့စည်းသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ Private Company Limited by Shares ဖြစ်သည့် Sinminn Cement Industry Co., Ltd. (SCI) ကုမ္ပဏီကို ဆိုလိုသည်။

(ခ) "သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း" ဆိုသည်မှာ ဤကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းဖြစ်သည်။

(ဂ) "စာရင်းစစ်များ" ဆိုသည်မှာ ညွှန်ကြားရေးမှူးချုပ်၊ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) ငွေစာရင်းရုံးမှ တာဝန်ပေးအပ်ခြင်းခံရသူ ပုဂ္ဂိုလ်/အဖွဲ့များဖြင့် ဖွဲ့စည်းထားသည့် စာရင်းစစ် နှင့် မြန်မာနိုင်ငံစာရင်းကောင်စီဥပဒေအရ မှတ်ပုံတင်ထားပြီး မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ၊ ၁၄၄ (၁)အရ ခန့်ထားသော ပြည်သူ့စာရင်းကိုင်တို့ဖြစ်သည်။

(ဃ) "မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ" ဆိုသည်မှာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေဖြစ်သည်။

(င) "ဘဏ္ဍာရေးနှစ်" ဆိုသည်မှာ နှစ်စဉ်မှာ ဧပြီလ ၁ရက်နေ့မှစ၍ တစ်ဆက်တည်းဖြစ်သော နောက်နှစ် မတ်လ ၃၁ ရက်နေ့တွင် ကုန်ဆုံးသောဘဏ္ဍာနှစ်ဖြစ်သည်။

(စ) "ဒါရိုက်တာအဖွဲ့" ဆိုသည်မှာ ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဖြစ်သည်။

(ဆ) "အစုရှယ်ယာရှင်"ဆိုသည်မှာ အခွင့်အာဏာအပ်နှင်းခန့်ထားခြင်းခံရသော ပုဂ္ဂိုလ်များက ကိုယ်စားပြုသည့် "မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်"နှင့် "Gold Cement Co., Ltd. (GC) "တို့ ဖြစ်သည်။

(ဇ) "က - အစုရှယ်ယာ" ဆိုသည်မှာ MEHLက စာရင်းတင်ထားသော (သို့မဟုတ်) ငွေထည့်ဝင်ပြီးသော ကုမ္ပဏီ၏ အစုရှယ်ယာဖြစ်သည်။

MYANMA ECONOMIC HOLDINGS LIMITED No. Date. * YANGON *

GOLD CEMENT CO., LTD. *

(ဈ) “ခ - အစုရှယ်ယာ ” ဆိုသည်မှာ GC က စာရင်းတင်ထားသော (သို့မဟုတ်) ငွေထည့်ဝင်ပြီးသော ကုမ္ပဏီ၏ အစုရှယ်ယာဖြစ်သည်။

(ည) “စာချုပ်ဝင်”ဆိုသည်မှာ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (သို့မဟုတ်) Gold Cement Co., Ltd. ဖြစ်ပြီး “စာချုပ်ဝင်များ” ဆိုသည်မှာ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် Gold Cement Co., Ltd. တို့ကို စုပေါင်းခေါ်ဆိုခြင်းဖြစ်သည်။

(ဋ) “တွဲဖက်လုပ်ကိုင်သူများ”ဆိုသည်မှာ ကုမ္ပဏီ၏ အကျိုးစီးပွားဖွံ့ဖြိုးတိုးတက်စေရန်အတွက် အဆင့်မြင့်နည်းပညာနှင့် စက်မှုဆိုင်ရာအတတ်ပညာအရ ဖြစ်စေ၊ “ခ-အစုရှယ်ယာ”တွင် စက်ပစ္စည်းအနေဖြင့်သော်လည်းကောင်း၊ ငွေကြေးအနေဖြင့်လည်းကောင်းပါဝင်မှုအရဖြစ်စေ၊ ကုမ္ပဏီ၏ ကြီးကြပ်မှုအောက်တွင် ပူးပေါင်းပါဝင်ဆောင်ရွက်သည့်ပုဂ္ဂိုလ်၊ အဖွဲ့အစည်း၊ ကုမ္ပဏီကို ခေါ်ဆိုခြင်းဖြစ်သည်။

**ကုမ္ပဏီဖွဲ့စည်းတည်ထောင်ခြင်း**

၄. ၁။ **ကုမ္ပဏီဖွဲ့စည်းမှု**

ဤစာချုပ်အပိုဒ် (၂)ပါလုပ်ငန်းရည်ရွယ်ချက်များကို ဆောင်ရွက်နိုင်ရန်အတွက် စာချုပ်ဝင်များသည် ဖက်စပ်ကုမ္ပဏီကို အောက်ပါအချက်အလက်များဖြင့် ဖွဲ့စည်းသည်-

(က) **ကုမ္ပဏီဖွဲ့စည်းမှုပုံစံ** - အစုရှယ်ယာများဖြင့် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

(ခ) **ကုမ္ပဏီအမည်** – ဆင်မင်းဘိလပ်မြေစက်မှုလက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်
Sinminn Cement Industry Co., Ltd. (SCI)

(ဂ) **ကုမ္ပဏီတည်နေရာ** – အဆောင် (၂)၊ အခန်း (၁)၊ MICT Park၊
လှိုင်တက္ကသိုလ်ဝင်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(ဃ) **အဓိကလုပ်ငန်းနှင့် ရည်ရွယ်ချက်** – အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများထုတ်လုပ်၍ တည်ဆောက်ရေးလုပ်ငန်းများတွင်အများပြည်သူများသုံးစွဲနိုင်ရန် အဆင့်မြင့်နည်းပညာများ အသုံးပြု၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ဘိလပ်မြေထုတ်လုပ်ရောင်းချရာတွင် ဦးစီးဦးဆောင်ကုမ္ပဏီတစ်ခုအဖြစ်သာမက အပြည်ပြည်ဆိုင်ရာဈေးကွက်သို့ အရည်အသွေးမီ အဆင့်မြင့်ဘိလပ်မြေများ ထုတ်လုပ်ရောင်းချရန်၊

(င) ခွင့်ပြုမတည်ငွေ ( Authorized capital) - ကျပ် (၁၀၄,၉၇၈,၉၄၀,၀၀၀) (အစုရှယ်ယာတစ်စုလျှင်ကျပ်တစ်သောင်းတန်ဘိုးရှိအစုရှယ်ယာပေါင်း ၁၀,၄၉၇,၈၉၄ စု) ယင်းခွင့်ပြုမတည်ငွေအတွက် အစုရှယ်ယာဝင်များသည် မိမိတို့ ထည့်ဝင်မည့် အစုရှယ်ယာတန်ဘိုးကို စက်ပစ္စည်းဖြင့်လည်းထည့်ဝင်နိုင်သည်။ ယင်းပစ္စည်းများနှင့် စပ်လျဉ်းသည့် တရားဝင် တင်သွင်းမှု၊ အရည်အသွေး ပြည့်မှီမှု ၊ အာမခံတာဝန်ယူမှု ၊ အထောက်အထားမှုရင်းများ တစ်ပါတည်းပါရှိရမည်။ အဆိုပါစက်ပစ္စည်းများ၏ ဆိပ်ကမ်းအရောက် တရားဝင်တန်ဘိုးကို ထည့်ဝင်ပြီး မတည် အစုရှယ်ယာအဖြစ် သတ်မှတ်ရမည်။

(စ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ – မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ ပြင်ဆင်ပြုစုရေးဆွဲ ၍တင်ပြဆောင်ရွက်ထားပါသည်။

(ဆ) ဥပဒေအရ ကုမ္ပဏီမှ ခွင့်ပြုနိုင်သော ကုန်ကျစရိတ်များမှအပ ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်ရာ၌ ကုန်ကျစရိတ်များ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ ပြုစုခြင်း၊ သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်းများထံမှ အတည်ပြုချက်များ ရယူခြင်း နှင့်မှတ်ပုံတင်ခြင်း အပါအဝင်တို့ကို ဒါရိုက်တာအဖွဲ့ကို တင်ပြပြီး ခွင့်ပြုချက်ရယူ၍ သုံးစွဲကျခံရမည်။

(ဇ) ကုမ္ပဏီ၏ခွင့်ပြုမတည်ငွေကို ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်းများနှင့် လက်ရှိတည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ နှစ်ပတ်လည်ဒါရိုက်တာအဖွဲ့အစည်းအဝေး၌ တိုးမြှင့်ပိုင်ခွင့် ၊ လျှော့ချပိုင်ခွင့်နှင့် အစုရှယ်ယာအတန်းအစားများ ပြင်ဆင်ပိုင်ခွင့်အာဏာရှိစေရမည်။

၄. ၂။ ခွင့်ပြုမတည်ငွေ (Authorized Capital)

ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်းမှာ ကျပ် ၁၀၄,၉၇၈,၉၄၀,၀၀၀ (ကျပ် တစ်သိန်း၊ လေးထောင်၊ ကိုးရာ၊ခုနှစ်ဆယ့်ရှစ်သန်းနှင့် ကိုးသိန်း၊လေးသောင်းတိတိ) သတ်မှတ်ထားပြီး အောက်ပါအတိုင်း ဖော်ပြပါရှိသည့် အစုရှယ်ယာတစ်စုလျှင် ကျပ်တစ်သောင်းတိတိ နှုန်းဖြင့် သို့တည်းမဟုတ် မြန်မာကျပ်ငွေဖြင့် ညီမျှသော အမေရိကန်ဒေါ်လာနှုန်းဖြင့် အစုရှယ်ယာပေါင်း ၁၀,၄၉၇,၈၉၄ (တစ်ဆယ်သန်း၊ လေးသိန်း၊ ကိုးသောင်း၊ခုနှစ်ထောင်၊ရှစ်ရာ၊ကိုးဆယ့်လေးစု) ဖြစ်ပါသည်။ ယင်းခွင့်ပြုမတည်ငွေတွင် အစုရှယ်ယာရှင်များသည် မိမိတို့ထည့်ဝင်မည့် အစုရှယ်ယာတန်ဖိုးကို စက်ပစ္စည်းအနေဖြင့်သော်လည်းကောင်း၊ အဆောက်အဦအနေဖြင့်သော်လည်းကောင်း၊ ငွေသားအနေဖြင့်သော်လည်းကောင်း၊ ယင်းထည့်ဝင်သည့် စက်ပစ္စည်း၏ တန်ဖိုးသင့်ငွေကို အစုရှယ်ယာတန်ဖိုးအဖြစ် မတည်ရင်းနှီးနိုင်သည်။

"က-အစုရှယ်ယာ"(MEHL) = (၅၁%)

အစုရှယ်ယာပေါင်း = ၅,၃၅၃,၉၂၆ (ငါးသန်း၊သုံးသိန်း၊ငါးသောင်း၊သုံးထောင့်ကိုးရာနှစ်ဆယ့်ခြောက်စု)

စုစုပေါင်းတန်ဖိုး = ကျပ် (၅၃,၅၃၉,၂၆၀,၀၀၀)

(ကျပ်ငါးသောင်း၊သုံးထောင်၊ငါးရာ့သုံးဆယ့်ကိုးသန်းနှင့် နှစ်သိန်းခြောက်သောင်း)

(စက်ပစ္စည်းတန်ဖိုးနှင့် ငွေသားထည့်ဝင်ငွေ)

(စက်ရုံ၊ အဆောက်အဦးအခြေပစ္စည်းများ နှင့် စက်ပစ္စည်းများ စုစုပေါင်းတန်ဖိုး

ဒေါ်လာ ၅၄. ၇၅သန်း (ကျပ်၅၃,၂၁၈,၅၀၀,၀၀၀) နှင့်

ငွေသားဒေါ်လာ ၀. ၃၃သန်း (ကျပ်၃၂၀,၇၆၀,၀၀၀)

"ခ-အစုရှယ်ယာ" (GC) = (၄၉%)

အစုရှယ်ယာပေါင်း = ၅,၁၄၃,၉၆၈ (ငါးသန်း၊တစ်သိန်း၊လေးသောင်း၊သုံးထောင့်ကိုးရာခြောက်ဆယ့်ရှစ်စု)

စုစုပေါင်းတန်ဖိုး = ကျပ် (၅၁,၄၃၉,၆၈၀,၀၀၀)

(ကျပ်ငါးသောင်း၊တစ်ထောင်၊လေးရာ၊သုံးဆယ့်ကိုးသန်းနှင့် ခြောက်သိန်းရှစ်သောင်း)

(စက်ပစ္စည်းတန်ဖိုး နှင့် ငွေသားထည့်ဝင်ငွေ)

(စက်ပစ္စည်း ဒေါ်လာ ၃၃. ၂ သန်း (ကျပ် ၃၂,၂၆၈,၄၁၀,၀၀၀)နှင့်

ငွေသားဒေါ်လာ ၁၉. ၇၂သန်း (ကျပ် ၁၉,၁၇၁,၂၇၀,၀၀၀)

၄. ၃။ ကနဦးရင်းနှီးမတည်ငွေ (Initial Paid Up Capital)

(က) "က - အစုရှယ်ယာ" MEHL သည် နောက်ဆက်တွဲ "က -၁"ပါ အစုရှယ်ယာကို ကြို့တင်လုပ်ငန်းစတင်သည့်နေ့ (၁. ၁၁. ၂၀၁၃)ရက်နေ့တွင် ထည့်ဝင်ပြီး ဖြစ်သည်။

(ခ) "ခ -အစုရှယ်ယာ" GC သည် နောက်ဆက်တွဲ "က -၂"ပါ အစုရှယ်ယာကို အောက်ပါအတိုင်း အဆင့်ဆင့် ထည့်ဝင်သွားမည်ဖြစ်သည်။

(၁) GC သည် မိမိထည့်ဝင်ရမည့် ကနဦးရင်းနှီးမတည်ငွေအနက် ပထမအကြိမ် အဖြစ် ငွေကျပ် (၁,၆၂၅ )သန်း (သို့မဟုတ်) USD (1.662) Million ကို ၂၀၁၃ခုနှစ်နိုဝင်ဘာလမှစတင်၍ စက်ရုံလည်ပတ်သုံးစွဲငွေအဖြစ် ၂၀၁၄ ခုနှစ်၊ မတ်လ နောက်ဆုံးထား၍ ထည့်ဝင်ပြီးဖြစ်သည်။

(၂) GC သည် ဒုတိယအကြိမ်အဖြစ် ၂၀၁၄ခုနှစ်၊ ဧပြီလမှစတင်၍ စက်ရုံများ လည်ပတ်ရင်းနှီးငွေကျပ် (၁,၅၈၅. ၅၉)သန်း (သို့) USD ( 1.638) Million

MYANMA ECONOMIC HOLDINGS LIMITED No. Date. YANGON

GOLD CEMENT CO., LTD.

ကို ၂၀၁၄ခုနှစ်ဩဂုတ်လနောက်ဆုံးထား၍ထပ်မံထည့်ဝင်ပြီးဖြစ်သည်။

(၃) GC သည်နောက်ဆက်တွဲ "က-၂"ပါ USD (22.66) Million တန်ဘိုးရှိ စက်ပစ္စည်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်နှင့် ပို့ကုန်၊ သွင်းကုန်ကြီးကြပ်ရေးညွှန်ကြားမှုဦးစီးဌာနတို့၏ ခွင့်ပြုချက်များရရှိပါက ၂၀၁၅ခုနှစ် ဇန်နဝါရီလမှ ဩဂုတ်လအတွင်း စတင် တင်သွင်းသွားမည်ဖြစ်ပြီး စက်ပစ္စည်းများတပ်ဆင်ခြင်းလုပ်ငန်းကို ၂၀၁၅ခုနှစ် ဒီဇင်ဘာလမကုန်ခင် တပ်ဆင်သွားပါမည်။

(၄) GC သည်တင်သွင်းလာမည့်စက်ပစ္စည်းများ၏ Installation, Fabrication Civil, Steel Structure and Piping, Painting, Logistics & Transport များအတွက် ကုန်ကျစရိတ်ငွေ USD (10.54) Million ကို နောက်ဆက်တွဲ "က-၂" ပါ ဖော်ပြထားသည့်အတိုင်း ကျခံသွားမည်ဖြစ်သည်။

"က-အစုရှယ်ယာ" (MEHL) = (၆၀%)

အစုရှယ်ယာပေါင်း = ၅,၃၂၀,၈၅၀ (ငါးသန်း၊သုံးသိန်း၊နှစ်သောင်း၊တစ်ထောင့်ရှစ်ရာငါးဆယ်စု)

စုစုပေါင်းတန်ဖိုး = ကျပ် (၅၃,၂၀၈,၅၀၀,၀၀၀)

(ကျပ် ငါးသောင်း၊သုံးထောင်၊နှစ်ရာတစ်ဆယ့်ရှစ်သန်းနှင့်ငါးသိန်း)

(စက်ရုံ၊အဆောက်အဦးအခြေပစ္စည်းများနှင့်စက်ပစ္စည်းများစုစုပေါင်းတန်ဘိုး USD ၅၄. ၇၅သန်း) (နောက်ဆက်တွဲ"က-၁")

"ခ-အစုရှယ်ယာ" (GC) = (၄၀%)

အစုရှယ်ယာပေါင်း = ၃,၅၄၇,၉၀၀ (သုံးသန်း၊ငါးသိန်း၊လေးသောင်း၊ခုနှစ်ထောင့်ကိုးရာစု)

စုစုပေါင်းတန်ဖိုး = ကျပ် (၃၅,၄၇၉,၀၀၀,၀၀၀)

(ကျပ် သုံးသောင်း၊ငါးထောင်၊လေးရာ၊ခုနှစ်ဆယ့်ကိုးသန်း)

စက်ပစ္စည်းတန်ဘိုးသင့်ငွေ နှင့် ငွေသားထည့်ဝင်ငွေ

(စက်ပစ္စည်းတန်ဖိုးဒေါ်လာ(၃၃. ၂)သန်း (ကျပ် ၃၂,၂၆၈,၄၁၀,၀၀၀) နှင့် ငွေသားဒေါ်လာ(၃. ၃)သန်း(ကျပ် ၃,၂၁၀,၅၉၀,၀၀၀)

(နောက်ဆက်တွဲ "က-၂" )

MYANMA ECONOMIC HOLDINGS LIMITED
No.
Date
YANGON

GOLD CEMENT CO., LTD.

**လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်မည့်နေရာ**

၅။ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ အရှေ့ဘက် ဖျောက်ဆိပ်ရွာသွား ကားလမ်းမိုင်တိုင် (၇/၃) နှင့် (၈/၀) အကြား လမ်း၏ မြောက်ဘက် နွားလည်ကောက်တောင်ခြေ အနီးရှိ (MEHL) ပိုင်ဆိုင်သည့် အောက်ဖော်ပြပါ စက်ရုံများတွင် စာချုပ်ပါ ရည်ရွယ်ချက်များနှင့်အညီ ကုမ္ပဏီမှ လုပ်ငန်းအကောင်အထည် ဖော်ဆောင်ရွက်မည်ဖြစ်ပါသည်။

(က) ဆင်မင်း-၁ တစ်နေ့တန် (၄၀၀) Wet Process ဘိလပ်မြေစက်ရုံ
(ခ) ဆင်မင်း-၂ တစ်နေ့တန် (၇၀၀) Dry Process ဘိလပ်မြေစက်ရုံ
(ဂ) ဆင်မင်း-၃ တစ်နေ့တန် (၁၂၀၀) Dry Process ဘိလပ်မြေစက်ရုံ
(ဃ) တော်ဝင်ပလတ်စတစ်ရက်ထည်အိတ်စက်ရုံ နှင့်
(င) ဆဒ္ဒန်စက်အရန်ပစ္စည်းထုတ်လုပ်ရေးစက်ရုံ

**ကုမ္ပဏီအားစီမံခန့်ခွဲခြင်း**

၆. ၁။ နှစ်ပတ်လည်အထွေထွေအစည်းအဝေး (Annual General Meeting )

နှစ်ပတ်လည်အထွေထွေအစည်းအဝေးကို ကုမ္ပဏီစတင်တည်ထောင်ဖွဲ့စည်းပြီးသည့်နေ့မှ (၁၈)လအတွင်း ပြုလုပ်ရမည်။ ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့်အချိန်နှင့်နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံး ကျင်းပသည့် အထွေထွေအစည်းအဝေးနှင့် ၁၅လထက် မပိုသည့် အချိန်ကာလအတွင်း) ကျင်းပရမည်။ နှစ်ပတ်လည်အထွေထွေ အစည်းအဝေးဖြစ်မြောက်ရန်အတွက် ဒါရိုက်တာအဖွဲ့ဝင်(၆)ဦး အနည်းဆုံးတက်ရောက်ရန် လိုအပ်ပြီး အစုရှယ်ယာရှင်ကိုယ်တိုင် (သို့မဟုတ်) ၎င်း၏ကိုယ်စားလှယ်က တက်ရောက်ရမည်ဖြစ်သည်။ နှစ်ပတ်လည်အထွေထွေ အစည်းအဝေးတွင် အောက်ပါလုပ်ငန်းကိစ္စများကို ဆောင်ရွက်ရမည်-

(က) ဒါရိုက်တာအဖွဲ့၏အစီရင်ခံစာ၊ နှစ်ချုပ်ဘဏ္ဍာရေးစာရင်းများနှင့် စာရင်းစစ်အစီရင်ခံစာကို အတည်ပြုခြင်း။
(ခ) အမြတ်ဝေစုများကြေငြာခြင်း။
(ဂ) ဒါရိုက်တာများ နုတ်ထွက်ခြင်း၊ ပြန်လည်ခန့်ထားခြင်း၊ အသစ်ပြန်လည်ခန့်ထားခြင်း။
(ဃ) စာရင်းစစ်ခန့်ထားခြင်း။
(င) ကုမ္ပဏီအတွင်းရေးမှူးအားခန့်ထားခြင်း။
(စ) ဥပဒေအကြံပေးအရာရှိအားခန့်ထားခြင်း။
(ဆ) အခြားကိစ္စရပ်များ။

၆.၂။ အထူးအစည်းအဝေး

အစုရှယ်ယာရှင်များ၏ အထူးအစည်းအဝေးကို ဒါရိုက်တာအဖွဲ့၏ ဥက္ကဋ္ဌက သော်လည်းကောင်း၊ ဒါရိုက်တာအဖွဲ့ဝင်တစ်ဦးဦးကသော်လည်းကောင်း လိုအပ်သည့်အခါတွင် ဒါရိုက်တာအဖွဲ့နှင့် ညှိနှိုင်းသဘောတူ ညီချက်ဖြင့် ခေါ်ယူကျင်းပနိုင်သည်။ အထူးအစည်းအဝေးဖြစ်မြောက်စေရန်အတွက် ဒါရိုက်တာအဖွဲ့ဝင်အနည်းဆုံး(၆)ဦး တက်ရောက်ရမည်။

၆.၃။ ဒါရိုက်တာအဖွဲ့ဝင် ( Board Of Directors)

(က) ကုမ္ပဏီ၏ဒါရိုက်တာအဖွဲ့ကို ဒါရိုက်တာအဖွဲ့ဝင်(၇)ဦးဖြင့် ဖွဲ့စည်းမည်။ ဒါရိုက်တာအဖွဲ့ဝင်(၇)ဦးအနက် MEHL မှ ဒါရိုက်တာ(၄)ဦး နှင့် GC မှ ဒါရိုက်တာ (၃)ဦးတို့ကို ခန့်ထားရမည်။

(ခ) ဒါရိုက်တာအဖွဲ့၏ ဥက္ကဋ္ဌကို MEHL မှ ခန့်ထားရမည်။

(ဂ) ဒါရိုက်တာအဖွဲ့အစည်းအဝေးများ

(၁) ဒါရိုက်တာအဖွဲ့ ပုံမှန်အစည်းအဝေးများကို (၄)လတစ်ကြိမ် အထူးအစည်းအဝေးအတွက် (၇)ရက် ကြိုတင်၍ သတ်မှတ်ပုံစံဖြင့် အကြောင်းကြားစာ ပေးပို့ခေါ်ယူနိုင်သည်။ ဒါရိုက်တာအဖွဲ့ ဥက္ကဋ္ဌ သို့မဟုတ် ဒါရိုက်တာ အဖွဲ့ဝင် တစ်ဦးဦးက မည်သည့်ကိစ္စရပ်အတွက်မဆို အထူးအစည်းအဝေးတစ်ရပ် ကျင်းပပေးရန် တင်ပြပါက မည်သည့်အခါတွင်မဆို ခေါ်ယူကျင်းပရမည်။ ဒါရိုက်တာအဖွဲ့ ပုံမှန်အစည်းအဝေးကျင်းပရန် အစည်းအဝေး ကျင်းပမည့် နေ့ရက်၊ အချိန်နှင့် နေရာတို့ကို ဖော်ပြလျက် (၁၄)ရက် ကြိုတင်အကြောင်းကြားစာ ပေး၍ ဆင့်ခေါ်နိုင်သည်။ အကြောင်းကြားစာတွင် အစည်းအဝေးကျင်းပမည့် အကြောင်းအရာ၊ ဆွေးနွေးမည့် အကြောင်းအရာများကို ရှင်းလင်းဖော်ပြပါရှိရမည်။

(၂) ဒါရိုက်တာအဖွဲ့ ဥက္ကဋ္ဌသည် အစည်းအဝေးတိုင်း၌ပင် သဘာပတိအဖြစ်ဆောင်ရွက်ရမည်။ သို့ရာတွင် ဥက္ကဋ္ဌ မရှိလျှင်သော်လည်းကောင်း၊ မတက်ရောက်လျှင်သော်လည်းကောင်း၊ အစည်းအဝေးတက်ရောက်သော ဒါရိုက်တာများက မိမိတို့အထဲမှ သင့်တော်သူတစ်ဦးကို အစည်းအဝေး သဘာပတိအဖြစ် ရွေးချယ်ရမည်။

(၃) ဒါရိုက်တာအဖွဲ့ အစည်းအဝေးဖြစ်မြောက်ရန် အနည်းဆုံး ဒါရိုက်တာ(၆)ဦး တက်ရောက်ရမည်။

MYANMA ECONOMIC HOLDINGS LIMITED No. Date. YANGON

GOLD CEMENT CO., LTD.

(၄) ဒါရိုက်တာအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်တိုင်းအတွက် တက်ရောက် လာသည့် ဒါရိုက်တာအဖွဲ့ဝင်များ၏ အများစုမဲ (၇၅%) ဖြင့် ဆုံးဖြတ်ရမည်။

(၄-၁) အခြားနှင့် ကုမ္ပဏီချင်းပေါင်းစပ်ခြင်း၊ ခွဲထွက်ခြင်း၊ ဖွဲ့စည်းခြင်း၊ ဖွဲ့စည်းပုံပြင်ဆင်သတ်မှတ်ခြင်း၊ ပယ်ဖျက်ခြင်း၊ ကုမ္ပဏီ၏ကော်ပိုရေးရှင်း ပုံစံပြောင်းလဲခြင်း။

(၄-၂) ကုမ္ပဏီဖျက်သိမ်းခြင်း (သို့)ဒေဝါလီခံခြင်း။

(၄-၃) ကုမ္ပဏီ၏သင်းဖွဲ့စည်းမျဉ်းနှင့် သင်းဖွဲ့မှတ်တမ်းများကို ပြင်ဆင်ခြင်း။

(၄-၄) ကုမ္ပဏီ၏ တရားဝင်ခွင့်ပြုငွေလုံးငွေရင်း မတည်ငွေတိုးခြင်း၊ လျှော့ခြင်း နှင့် အစုရှယ်ယာဝင်တို့၏ ထည့်ဝင်ငွေအပေါ် အချိုးအစားပြောင်းလဲခြင်း။

(၄-၅) ကုမ္ပဏီ၏ အမြတ်ခွဲဝေသည့် အစီအစဉ်အတည်ပြုခြင်း။

(၄-၆) ကုမ္ပဏီ၏ပိုင်ဆိုင်မှုများမှ အခြားသို့ ရွှေ့ပြောင်းခြင်း၊ လုပ်ငန်းသစ်သို့ ထည့်ဝင်ရင်းနှီးခြင်း။

(၄-၇) ဒါရိုက်တာအဖွဲ့အရေအတွက်နှင့် Quorum အရေအတွက် သတ်မှတ်ခြင်း။

(၄-၈) ကုမ္ပဏီ၏ဝန်ထမ်းများသို့ အစုရှယ်ယာများရောင်းချခြင်း၊ မူဝါဒ ချမှတ်ခြင်း။

(၄-၉) ကုမ္ပဏီ၏ပိုင်ဆိုင်မှုမှ အချို့တို့ကို ရောင်းချခြင်း၊ ငှားရမ်းခြင်းတို့တွင် စုစုပေါင်းတန်ဘိုး USD (၂) သန်းအထက် ကျသင့်သည့်အခါ ဆုံးဖြတ်ချက်ပေးခြင်း။

(၄-၁၀) ကျန်းမာရေးအရသော်လည်းကောင်း၊ ဘေးအန္တရာယ် ကင်းရှင်းရေး အရသော်လည်းကောင်း လိုအပ်၍ လုပ်ငန်းကို ယာယီ/အမြဲတမ်း ရပ်ဆိုင်းရန် ဆုံးဖြတ်ပေးခြင်း။

(၄-၁၁) ကုမ္ပဏီ၏ မူလလုပ်ငန်းမှ သဘာဝမတူသည့် အခြားလုပ်ငန်းသို့ ပြောင်းလဲရန် ဆုံးဖြတ်ခြင်း။

(၅) အထက်အပိုဒ်ခွဲ (၄)ပါကိစ္စရပ်များမှလွဲ၍ ကျန်ကိစ္စများတွင် မဲခွဲဆုံးဖြတ်ရန် လိုအပ်လာပါက ဥက္ကဋ္ဌ (မပါ) ဒါရိုက်တာအဖွဲ့ဝင်တစ်ဦးသည် မဲပေးခွင့် တစ်ကြိမ်ရရှိပြီး အများစုထောက်ခံမဲဖြင့် ဆုံးဖြတ်ရမည်။ အဖွဲ့ဝင်များ၏

မဲအရေအတွက် တူညီနေလျှင် ဒါရိုက်တာအဖွဲ့ ဥက္ကဋ္ဌ၏ မဲပေးဆုံးဖြတ်ချက်သည် နောက်ဆုံးနှင့် အပြီးအပြတ် ဖြစ်စေရမည်။

(၆) အစည်းအဝေးတွင် Gold Cement Co.,Ltd ၏ မန်နေဂျင်းဒါရိုက်တာကို ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာအဖြစ် ခန့်ထားပြီး လုပ်ပိုင်ခွင့်များအပ်နှင်းနိုင်သည်။

(၇) ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာသည် ဒါရိုက်တာအဖွဲ့အတွင်းရေးမှူးအဖြစ် တာဝန်ယူ ဆောင်ရွက်စေရမည်။

(၈) အတွင်းရေးမှူးသည် ပုံမှန်အစည်းအဝေးများမတိုင်မီ အစည်းအဝေးနှင့် သက်ဆိုင်အကျုံးဝင်သော သတင်းအချက်အလက်၊ အကြောင်းအရာများကို စုဆောင်းပြင်ဆင်ပြုစု၍ အစည်းအဝေး မကျင်းပမီ (၇)ရက်ကြိုတင်ကာ ဒါရိုက်တာအဖွဲ့ ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များထံ ဖြန့်ဝေပေးအပ်ရမည်။

၆. ၄။ မန်နေဂျင်းဒါရိုက်တာ

(က) ကုမ္ပဏီ၏ နေ့စဉ်လုပ်ငန်းကိစ္စရပ်များကို စီမံခန့်ခွဲဆောင်ရွက်နိုင်ရန်အတွက် မန်နေဂျင်းဒါရိုက်တာကို Gold Cement Co.,Ltd ၏ မန်နေဂျင်းဒါရိုက်တာအား ခန့်ထားရန်အဆိုပြုခြင်းကို ကုမ္ပဏီမှ အတည်ပြုပြီး ဒါရိုက်တာအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် လုပ်ပိုင်ခွင့်များ အပ်နှင်းရမည်။

(ခ) မန်နေဂျင်းဒါရိုက်တာသည် ဒါရိုက်တာအဖွဲ့မှ ချမှတ်ထားသည့် ဆုံးဖြတ်ချက်များကို တာဝန်ယူဖော်ဆောင်ရမည်ဖြစ်ပြီး ဆုံးဖြတ်ချက်များကို ဒါရိုက်တာအဖွဲ့၏ ထောက်ခံမှုယူ၍ နိုင်ငံတကာ စံချိန်စံညွှန်းများအတိုင်း အကောင်းဆုံး ဆောင်ရွက်နိုင်ရမည်ဖြစ်သည်။

(ဂ) မန်နေဂျင်းဒါရိုက်တာအား ကုမ္ပဏီအတွက် ပြည်တွင်းပြည်ပ ကျွမ်းကျင်သူများ ခန့်ထားခြင်း၊ စီမံခန့်ခွဲခြင်း၊ ဒါရိုက်တာအဖွဲ့မှ ခွင့်ပြုထားသည့် သတ်မှတ်ချက်များအတွင်း အသုံးစရိတ်များ ထုတ်ယူသုံးစွဲခြင်း စသည့် လုပ်ပိုင်ခွင့်များ လွှဲအပ်နိုင်သည်။ ထိုသို့ လွှဲအပ်ရာတွင် စာချုပ်ဝင်များ၏ သဘောတူမှု၊ ဒါရိုက်တာအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်များဖြင့် ညွှန်ကြားလွှဲအပ်ရမည်။

စာရင်းများနှင့် စာရင်းစစ်ဆေးခြင်း

၇. ၁။ ကုမ္ပဏီသည် စာရင်းစာအုပ်များနှင့် မှတ်တမ်းများကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ

ထိန်းသိမ်းထားရှိပြီး မြန်မာနိုင်ငံစာရင်းကိုင်စံများနှင့်အညီ ရေးဆွဲရမည်။

၇.၂။ ကုမ္ပဏီ၏ အထက်ပါစာရင်းများကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ-၁၄၅ (၁) ပုဒ်မ ၁၄၅- (၂)တို့နှင့်အညီ ဤသဘောတူစာချုပ်အပိုဒ် ၃-(ဂ)အရ ခန့်ထားခြင်းခံရသော စာရင်းစစ်မှ စစ်ဆေးရမည်။ ဘဏ္ဍာရေးနှစ်အလိုက် စာရင်းစစ် အစီရင်ခံစာများကို သက်ဆိုင်ရာဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် တစ်လအတွင်း စာချုပ်ဝင်များထံ ပေးပို့ရမည်။

၇.၃။ ကုမ္ပဏီ၏ စာရင်းဇယားများကို စာချုပ်ဝင်များ၏ စာရင်းစစ်များမှလည်း စစ်ဆေးနိုင်ခွင့်ရှိစေရမည်။ ယင်းကဲ့သို့စစ်ဆေးခြင်းကို တစ်ဖက်စာချုပ်ဝင်သို့ ကြိုတင်အသိပေးရမည်။

၇.၄။ ကုမ္ပဏီ၏ စာရင်းစာအုပ်များနှင့်မှတ်တမ်းများကို ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ(၁၃၀)နှင့်အညီ မှန်ကန်ပြည့်စုံစွာရေးမှတ်၍ ကုမ္ပဏီ၏ မှတ်ပုံတင်လိပ်စာပါ ရုံးခန်း(သို့မဟုတ်)စာချုပ်ဝင်များ သဘောတူဆုံးဖြတ် ရွေးချယ်သတ်မှတ်သောနေရာတွင် စနစ်တကျထားရှိရမည်။ စာရင်းရေးသွင်းရာတွင် ပြည့်စုံတိကျမှန်ကန်၍ ကုမ္ပဏီ၏ လုပ်ဆောင်ချက် တစ်ခုချင်းစီအတွက် ဖြစ်ရမည်။ စာချုပ်ဝင်များမှ ၎င်းတို့၏ တစ်ဖွဲ့ချင်း ဘဏ္ဍာရေးအစီရင်ခံစာ ပြုစုရန် လိုအပ်၍ တောင်းခံလာပါက ကုမ္ပဏီ၏ အသားတင်ပိုင်ဆိုင်မှု၊ အခွန်အခတွက်ချက်ရန်အတွက် လိုအပ်သည့်အချက်အလက်များကို အပြန်အလှန် ပံ့ပိုးကူညီမှုအနေဖြင့် ကုမ္ပဏီမှ ဆောင်ရွက်ပေးရမည်။

၇.၅။ စာချုပ်ဝင်များမှ နည်းလမ်းတကျ လွှဲအပ်ခန့်ထားသော ကိုယ်စားလှယ်များ၊ တရားဝင် ဆက်ခံသူများက လုံလောက်သော အကြောင်းပြချက်ဖြင့် စာဖြင့်ရေးသားကာ တရားဝင် လျှောက်ထား တောင်းခံလာပါလျှင် စာရင်းအင်းဆိုင်ရာ စာအုပ်စာတမ်း၊ မှတ်တမ်းမှတ်ရာ၊ စာချုပ်စာတမ်းများနှင့် ပိုင်ဆိုင်မှုအရပ်ရပ်တို့အား စစ်ဆေးခြင်းကို ဒါရိုက်တာအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်ဖြင့် ခွင့်ပြုနိုင်သည်။ လိုအပ်သည့်အချက်အလက်များ ကူးယူခွင့်ပြုနိုင်သည်။ လိုအပ်ပါက ကူညီဆောင်ရွက်ပေးရန် အဖွဲ့ငယ်တစ်ရပ် ဖွဲ့စည်းတာဝန်ပေးအပ် ဆောင်ရွက်စေနိုင်သည်။

၇.၆။ ရောင်းဝယ်ဖောက်ကားမှု ပုံစံစနစ်ကို ကုမ္ပဏီမှ IT စနစ်ဖြင့် အသုံးပြုသည့် ကွန်ပြူတာ Software ကို အသုံးပြု၍ ထိန်းသိမ်းဆောင်ရွက်ရန် စာချုပ်ဝင်များမှ အစေအဆုံး အကောင်အထည် ဖော်ရန် သဘောတူပါသည်။

**စာချုပ်ဝင်များ၏တာဝန်များ**

၈.၁။ MEHL ၏ လုပ်ငန်းတာဝန်များ

(က) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းတွင် ဖော်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ "ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်" (Investments Permit) ပါမစ်ရရှိရန်အတွက် မြန်မာနိုင်ငံ

MYANMA ECONOMIC HOLDINGS LIMITED
No.
Date.
YANGON

GOLD CEMENT CO. LTD.

ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ခ) ကုမ္ပဏီဖွံ့ဖြိုးတိုးတက်နိုင်ရန် လုပ်ငန်းများဆောင်ရွက်ရာတွင် လိုအပ်သည့် ဝန်ကြီးဌာန၊ ဌာနအဖွဲ့အစည်းများမှ အတည်ပြုချက်၊ သဘောတူညီချက်များ ရယူပေးရန်။

(ဂ) ကုမ္ပဏီအတွက် လိုအပ်သော နိုင်ငံခြားသားကျွမ်းကျင်သူ ပညာရှင်များအတွက် ဗီဇာ၊ နေထိုင်ခွင့်နှင့် အလုပ်လုပ်ခွင့်များရရှိစေရန် လိုအပ်သည်များ ကူညီ ဆောင်ရွက်ပေးရန်။

(ဃ) လုပ်ငန်းအတွက် အထက်အပိုဒ် (၄-၃)တွင် ဖော်ပြထားသော ကနဦးမတည်ငွေ (Initial Paid Up Capital) တွင် MEHL အနေနှင့် ငွေသားထပ်မံထည့်ဝင်ခြင်းပြုမည် မဟုတ်ပါ။

(င) အထက်အပိုဒ် ( ၄-၂)တွင် ဖော်ပြထားသော ခွင့်ပြုမတည်ငွေ (Authorized Capital) အတွက် လိုအပ်ပါက မတည်ငွေ သတ်မှတ်အချိုးအစားဘောင်အတွင်းမှ ထည့်ဝင်ပေးရန်။

၈. ၂။ GC ၏ လုပ်ငန်းတာဝန်များ

(က) ဘိလပ်မြေထုတ်လုပ်၊ ထုတ်ပိုးမှုအတွက် လိုအပ်သည့် စက်ပစ္စည်းများ၊ နည်းပညာများ၊ အရည်အသွေးပြည့်မှီရန် စီမံခန့်ခွဲရေး၊ ဆက်သွယ်ရေး မြန်ဆန် အဆင်ပြေ ချောမွေ့စေရေး၊ အုပ်ချုပ်မှုလုပ်ငန်းအဝဝအတွက် တာဝန်ယူ ဆောင်ရွက်ရန်။

(ခ) အထက်အပိုဒ်(၄-၂)တွင် ဖော်ပြထားသော ခွင့်ပြုမတည်ငွေ၊ အပိုဒ်(၄-၃)တွင် ဖော်ပြထားသော ကနဦးရင်းနှီးမတည်ငွေ ဖော်ပြချက်များအရ စက်ပစ္စည်းများ အပြင် ငွေသားဖြင့်ပါ ထည့်ဝင်ပေးရန်၊ ခွင့်ပြုသည့် စက်ပစ္စည်းများဖြင့် ထည့်ဝင်ရာတွင် မူလသတ်မှတ်တန်ဖိုးထက် လျော့နည်းမှု ပေါ်ပေါက်ပါက လျော့နည်းလိုအပ်ငွေပမာဏကို ငွေသားဖြင့် ဖြည့်စွက်ထည့်ဝင်ရန်။

(ဂ) ထုတ်လုပ်မှု၊ ဝယ်ယူမှု၊ ရောင်းချမှုနှင့် ဝန်ဆောင်မှုလုပ်ငန်းများကို နိုင်ငံတကာစံနှုန်း သတ်မှတ်ချက်များနှင့် ကိုက်ညီမှုရှိရေး တာဝန်ယူဆောင်ရွက်ပေးရန်။

၈.၃။ ကုမ္ပဏီလုပ်ငန်းတာဝန်များ

(က) လုပ်ငန်းဆိုင်ရာမူဝါဒများချမှတ်ခြင်း။

(ခ) ဤစာချုပ်ပါ သဘောတူညီချက်၊ စည်းကမ်းချက်များကို အခြေခံ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်၊ ခွင့်ပြုချက်ဘောင်အတွင်းမှ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်းများနှင့်အညီ လုပ်ငန်းစီမံချက်များ အတည်ပြုခြင်း၊ ပြင်ဆင်ခြင်း။

MYANMA ECONOMIC HOLDINGS LIMITED No. Date. YANGON

GOLD CEMENT CO., LTD.

(ဂ) ကုမ္ပဏီကိုယ်စား တရားစွဲဆိုခြင်း၊ ခုခံချေပခြင်း၊ ကျေအေးပြေငြိမ်းရှုပ်သိမ်းခြင်း။

(ဃ) လိုအပ်သည့် ကြေညာချက်များထုတ်ပြန်ခြင်း၊ ကြေညာခြင်း။

(င) ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ ထုတ်ကုန်များကို ပြည်တွင်း/ ပြည်ပသို့ တင်ပို့ရောင်းချခြင်း၊ လိုအပ်သည်များကို တင်သွင်းခြင်း။

(စ) စာချုပ်စာတမ်းများ၊ နားလည်မှုစာချွန်လွှာများ၊ ချုပ်ဆိုလက်မှတ်ရေးထိုးခြင်း။

(ဆ) ကုမ္ပဏီလုပ်ငန်းလည်ပတ်ငွေ လိုအပ်ချက်ရှိလာပါက စာချုပ်ဝင်များမှ ညှိနှိုင်း၍ ငွေကြေးထပ်မံထည့်ဝင်ခြင်း၊ ကုမ္ပဏီအနေဖြင့် ချေးငွေရယူခြင်းတို့ကို ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်ဖြင့် ဆောင်ရွက်ခြင်း။

**အစုရှယ်ယာခွဲဝေချထားခြင်း၊ အစုရှယ်ယာလက်မှတ်ထုတ်ပေးခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်း နှင့် ဦးစားပေးဝယ်ယူခွင့်အပါအဝင်၊ ကန့်သတ်ချက်၊ စည်းကမ်းချက်များ**

၉.၁။ အစုရှယ်ယာခွဲဝေချထားခြင်း၊ အစုရှယ်ယာလက်မှတ်ထုတ်ပေးခြင်းတို့ကို မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ၊ နည်းဥပဒေများ အကျုံးဝင်နိုင်သမျှ လိုက်နာ ဆောင်ရွက်ရမည်။ အစုရှယ်ယာလွှဲပြောင်းရောင်းချရာတွင် ရောင်းချမည့် အစုရှယ်ယာရှင်သည် အခြားမည်သည့်ပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းထံသို့ အစုရှယ်ယာ လွှဲပြောင်းရောင်းချမည့် အကြောင်းချင်းရာ အချက်အလက်များကို ကျန်အစုရှယ်ယာရှင်ထံ ရှေးဦးကြိုတင် တင်ပြ သဘောတူ အတည်ပြုချက်ရယူရမည်။

၉.၂။ ကျန်အစုရှယ်ယာရှင်ထံ ရှေးဦးကြိုတင်တင်ပြသဘောတူ အတည်ပြုချက် ရယူခြင်း မရှိဘဲ အခြားမည်သည့်ပုဂ္ဂိုလ် (သို့မဟုတ်)အဖွဲ့အစည်းထံသို့ အစုရှယ်ယာလွှဲပြောင်း ရောင်းချခဲ့လျှင် လွှဲပြောင်းရောင်းချခဲ့သည့်အစုရှယ်ယာများကို ကျန်စာချုပ်ဝင်/အစုရှယ်ယာရှင်သည် ကုမ္ပဏီ၏ BOD အဖွဲ့က နှစ်အလိုက် နောက်ဆုံး သတ်မှတ်ချက်နှင့် အကျုံးဝင်သည့် အစုရှယ်ယာတစ်စု တန်ဘိုးအတိုင်း တွက်ချက်၍ ရောင်းချမည့်မူလ အစုရှယ်ယာရှင်ထံမှ ပြန်လည်ဝယ်ယူခွင့်ပြုရမည်။

၉.၃။ စာချုပ်ဝင်များသည် ကုမ္ပဏီတွင် ၎င်းတို့ပါဝင်သည့် အစုရှယ်ယာပိုင်ဆိုင်မှု အချိုးအစားအလိုက် အစုရှယ်ယာထုတ်ပေးခွင့် ရယူပိုင်ခွင့်၊ လွှဲပြောင်းခွင့် ဦးစာပေးဝယ်ယူခွင့် စသည့်ကိစ္စများအား မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ၊ နည်းဥပဒေ၊ အမိန့် ကြော်ငြာချက်များနှင့် တည်ဆဲဥပဒေများအရ လိုက်နာရမည်ဖြစ်ပြီး ရေးဆွဲအတည်ပြုထားသော ကုမ္ပဏီသင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

MYANMA ECONOMIC HOLDINGS LIMITED No. Date. YANGON

GOLD CEMENT CO., LTD.

**အကျိုးအမြတ်ခွဲဝေခြင်း**

၁၀။ ကုမ္ပဏီအကျိုးအမြတ်ခွဲဝေရာတွင် စာချုပ်ချုပ်ပြီး ဘဏ္ဍာရေးနှစ်တစ်နှစ်ကုန်ဆုံးသည့်နေ့မှ (၂)လအတွင်း အသားတင်အမြတ်အပေါ် "က-အစုရှယ်ယာ" (၆၀%)နှင့် "ခ-အစုရှယ်ယာ" (၄၀%)ဖြင့် ခွဲဝေပေးရမည်ဖြစ်ပြီး နောက်ထပ်အစုရှယ်ယာ "က-အစုရှယ်ယာ" ဝင်မှ အစုရှယ်ယာပေါင်း (၃၂,၀၇၆)နှင့် "ခ-အစုရှယ်ယာ" ဝင်မှ အစုရှယ်ယာပေါင်း (၁,၅၉၆,၀၆၈)ထည့်ဝင်ပြီးလျှင် "က-အစုရှယ်ယာ"(၅၁%)နှင့် "ခ-အစုရှယ်ယာ"(၄၉%)ဖြင့် ခွဲဝေရမည်ဖြစ်သည်။

**ချေးငွေများ**

၁၁. ၁။ ကုမ္ပဏီသည် လုပ်ငန်းအတွက်လိုအပ်ပါက ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်ဖြင့် ချေးငွေများ ရယူနိုင်သည်။ သို့ရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၅၄- (က)တွင် ပြဋ္ဌာန်း ခွင့်ပြု ထားသည်မှတပါး ယင်းပြဋ္ဌာန်းခွင့်ပြုချက်ထက်ပိုသော ကုမ္ပဏီ၏ မည်သည့် မတည်ငွေ၊ အစုရှယ်ယာ၏ အစိတ်အပိုင်းကိုမျှ ကုမ္ပဏီ၏ အစုရှယ်ယာများကို ဝယ်ယူရန်သော်လည်းကောင်း၊ အာမခံထား၍ ငွေချေးယူရန်သော်လည်းကောင်း အသုံးမပြုရ။

၁၁. ၂။ စာချုပ်ဝင်တစ်ဦးဦးသည် ကုမ္ပဏီသို့ ထည့်ဝင်ရမည့် အစုရှယ်ယာ၊ ငွေကြေးများအတွက် ချေးငွေ ရယူခဲ့ပါက ယင်းသို့ ချေးယူငွေရင်းနှင့် အတိုးများကို ပေးဆပ်ရန် တာဝန်မှာ ထိုစာချုပ်ဝင် အပေါ်၌သာ တင်ရှိစေရမည်။ ကုမ္ပဏီနှင့်သက်ဆိုင်မှု၊ တာဝန်တင်ရှိမှု တစ်စုံတစ်ရာ မရှိစေရ။

၁၁. ၃။ စာချုပ်ဝင်တစ်ဦးသည် ကုမ္ပဏီ၏ အစုရှယ်ယာများကို အပေါင်ပြု၍ ချေးငွေ ရယူရန် ဆောင်ရွက်လျှင် အခြားစာချုပ်ဝင်၏ သဘောတူညီချက်ဖြင့် ဆောင်ရွက်ရမည်။

**ဘဏ္ဍာရေးလျာထားချက်**

၁၂. ၁။ မန်နေဂျင်းဒါရိုက်တာသည် နှစ်စဉ်ဘဏ္ဍာရေးလျာထားချက်ကို ရေးဆွဲ၍ ဒါရိုက်တာအဖွဲ့ထံသို့ တင်ပြအတည်ပြုချက်ရယူရမည်။

၁၂. ၂။ ထိုဘဏ္ဍာရေးလျာထားချက်တွင် အောက်ပါတို့ပါဝင်ရမည် -

(က) ငွေရေးကြေးရေးလည်ပတ်မှု၊ ကုမ္ပဏီ၏ ငွေလုံးငွေရင်းလိုအပ်ချက် ခန့်မှန်းခြင်း၊ လွန်ခဲ့သော ဘဏ္ဍာရေးနှစ်မှ ရရှိသောအကျိုးအမြတ်မှ ရှေ့လုပ်ငန်းစဉ်အတွက် လိုအပ်မည့်ငွေလုံးငွေရင်းကို တွက်ချက်ဖယ်ထုတ်ပြီးမှ အစုရှယ်ယာဝင်များသို့ ခွဲဝေပေးနိုင်မည့် ပမာဏကို တွက်ချက်ပေးရန်။

(ခ) လစဉ်အရှုံးအမြတ် ခန့်မှန်းချက်။

(ဂ) လက်ကျန်စာရင်းခန့်မှန်းချက်။

MYANMA ECONOMIC HOLDINGS LIMITED No. Date YANGON

GOLD CEMENT CO., LTD.

(ဃ) နှစ်တစ်နှစ်၏ စီးပွားရေးခန့်မှန်းချက် ဖော်ပြသည့် စီမံအုပ်ချုပ်မှု အစီရင်ခံစာ။

(င) ဘဏ္ဍာရေးအစီရင်ခံစာတွင် ကုမ္ပဏီလုပ်ဆောင်ချက်ကို သက်ရောက်ဘဏ္ဍာရေးနှစ်နှင့် ၎င်းနှစ် မတိုင်မီနှင့် ရလဒ်များကို နှိုင်းယှဉ်ပြရပါမည်။ အဆိုပါနှိုင်းယှဉ်ချက်တွင် ရောင်းဝယ် ဖောက်ကားမှုပမာဏ၊ ရရှိသည့်ငွေအကျိုးအမြတ်၊ ကုန်ကျစရိတ်နှင့် အခြားအသုံးပြုပစ္စည်းဝတ္ထုများ ပါဝင်ရပါမည်။

၁၂.၃။ ဤသဘောတူကတိစာချုပ်လက်မှတ်ရေးထိုးပြီး တစ်ပတ်အတွင်း ဘဏ္ဍာရေးလျာထားချက်ကို ရေးဆွဲရမည်။ ထိုသို့ရေးဆွဲရာတွင် နှစ်ဖက်၏အကျိုးနှင့် မျှတမှုကို ရည်ရွယ်၍ သဘောရိုးဖြင့် နှစ်ဦးနှစ်ဖက်၏ သဘောတူညီချက်အရ ရေးဆွဲရမည်။

၁၂.၄။ အထက်ပါ ဘဏ္ဍာရေးလျာထားချက်ကို မြန်မာနိုင်ငံဥပဒေသတ်မှတ်ချက်နှင့်အညီ ဧပြီလ(၁)ရက်နေ့မှ နောက်နှစ် မတ်လ(၃၁)ရက်အတွက် ရေးဆွဲရပါမည်။

လျှို့ဝှက်ထိန်းသိမ်းခြင်း

၁၃.၁။ ကုမ္ပဏီနှင့်စာချုပ်ဝင်များသည် ကုမ္ပဏီ၏ သာမန်လုပ်ငန်းများမှအပ အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်ချက်များနှင့် ကုမ္ပဏီနှင့် သက်ဆိုင်သော သတင်းအချက်အလက်များ(လျှို့ဝှက်ထိန်းသိမ်းရမည့်သတင်းအချက်အလက်များ) ကို လျှို့ဝှက်ထိန်းသိမ်းထားရှိရမည်။

၁၃.၂။ အထက်ဖော်ပြပါ လျှို့ဝှက်ထိန်းသိမ်းရမည့် တာဝန်ဝတ္တရားသည် အောက်ပါ ကိစ္စရပ်များသည် သက်ဆိုင်အကျုံးဝင်ခြင်း မရှိစေရ-

(က) ဥပဒေအရလည်းကောင်း၊ စတော့ဈေးကွက် စည်းမျဉ်းများ သို့မဟုတ် တရားရုံးတော် တစ်ရပ်ရပ် သို့မဟုတ် အခွင့်အာဏာရှိ အာဏာပိုင်ပုဂ္ဂိုလ်တို့၏ ဥပဒေအရ စည်းနှောင်မှုရှိသော စီရင်ချက်၊ အမိန့် သို့မဟုတ် လိုအပ်ချက်အရ သော်လည်းကောင်း၊ ထိုအတိုင်းအတာအထိ ထုတ်ဖော် ပြောဆိုရန် လိုအပ်သဖြင့် လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အား ထုတ်ဖော်ပြောဆိုခြင်း။

(ခ) သက်ဆိုင်ရာ အစုဝင် သို့မဟုတ် ၎င်း၏ တွဲဖက်လုပ်ကိုင်သူ၏ အခွန်နှင့် စပ်လျဉ်းသော ကိစ္စရပ်အတွက် ကျိုးကြောင်းဆီလျော်စွာ လိုအပ်သည့် အတိုင်းအတာအထိ အခွန်အာဏာပိုင်ထံ ထုတ်ဖော်တင်ပြရန် လိုအပ်သဖြင့် လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်ကို ထုတ်ဖော်တင်ပြခြင်း။

(ဂ) အစုဝင်တစ်ဦးဦး၏ တာဝန်ပေးလွှဲအပ်ထားသော အကြံပေးအတိုင်ပင်ခံ ပုဂ္ဂိုလ်များသို့

MYANMA ECONOMIC HOLDINGS LIMITED
No.
Date.
YANGON

GOLD CEMENT CO., LTD.

ထိုပုဂ္ဂိုလ်များက လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းများကို မပေါက်ကြားအောင် ထိန်းသိမ်းပေးရန် အာမခံတာဝန်ယူသဖြင့် လျှို့ဝှက် ထိန်းသိမ်းရမည့် သတင်းအချက်အလက်များကို ယုံကြည်စိတ်ချစွာ ထုတ်ဖော်တင်ပြခြင်း။

(ဃ) လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်များသည် အများပြည်သူနှင့် သက်ဆိုင်ရရှိနိုင်သည့် အခြေအနေဖြစ်လာခြင်း။

(င) ရင်းနှီးမြှုပ်နှံသူအသစ်နှင့် စပ်လျဉ်းသောကိစ္စတွင် ရင်းနှီးမြှုပ်နှံသူအသစ်၏ စာချုပ်ဝင်များ၊ တွဲဖက်လုပ်ကိုင်သူများ၊ ဒါရိုက်တာများအား ရင်းနှီးမြှုပ်နှံသူအသစ်၏ မူဝါဒ၊ လုပ်ထုံးများနှင့်အညီ လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်များကို ထုတ်ဖေါ်တင်ပြရန် လိုအပ်ပြီးဖင်းကလည်းလျှို့ဝှက်ရမည်။ သတင်းအချက်အလက်များကို မပေါက်ကြားအောင် ထိန်းသိမ်းပေးရန် အာမခံတာဝန်ယူသဖြင့် လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်များကို ထုတ်ဖေါ်တင်ပြခြင်း။

(စ) ဤအပိုဒ်တွင်ပါဝင်သော လျှို့ဝှက်ထိန်းသိမ်းခြင်းဆိုင်ရာ သဘောတူညီချက်များသည် ဤစာချုပ်ရပ်စဲပြီးနောက် ဆက်လက်အကျိုးသက်ရောက်မှုရှိစေရမည်ဖြစ်ပြီး စာချုပ်ရပ်စဲသည့်အပေါ် စွန့်လွှတ်ပယ်ဖျက်ပြီးဖြစ်သည်ဟု မမှတ်ယူရ။

(ဆ) ကုမ္ပဏီနှင့် ကုမ္ပဏီ၏ အရေးပါသော အရာရှိများ၊ ဝန်ထမ်းများအဖြစ် စီစစ်တာဝန်ပေးအပ်ခံရသော ပုဂ္ဂိုလ်တို့သည် လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်များကို လျှို့ဝှက်ထိန်းသိမ်းကာကွယ်မည့်အကြောင်း၊ စာချုပ်ဝင်များ ကျေနပ် သဘောတူသည့် လျှို့ဝှက်ထိန်းသိမ်းကာကွယ်ခြင်း ကတိခံဝန်ချုပ်ကို ခိုင်လုံစွာ ဝန်ခံလက်မှတ်ရေးထိုးချုပ်ဆိုစေရမည်။

(ဇ) ကုမ္ပဏီသည် ကျန်ရှိသော အရာရှိများ၊ အလုပ်သမားများကိုလည်း အဆိုပါ ကတိခံဝန်ချုပ် သို့မဟုတ် လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်များကို လျှို့ဝှက်ထိန်းသိမ်း ကာကွယ်ရေးဆိုင်ရာ တာဝန်ဝတ္တရားရှိမှုစာချုပ်ကို လက်မှတ် ရေးထိုးစေရန် ဆောင်ရွက်ရမည်။(ဥပမာအားဖြင့် အလုပ်ခန့်ထားမှုကတိစာချုပ်နှင့် တဆက်တစ်စပ်တည်းဖြစ်စေ၊ ကုမ္ပဏီ၏ လုပ်ငန်းခွင်စည်းကမ်းချက်တစ်ရပ် အဖြစ်ဖြစ်စေ)

အကျင့်ပျက်ခြစားမှုနှင့် လာဘ်ပေးလာဘ်ယူဆန့်ကျင်ရှောင်ကြဉ်ခြင်း

၁၄။ စာချုပ်ဝင်အချင်းချင်းသော်လည်းကောင်း၊ ဝန်ထမ်းများအနေဖြင့်သော်လည်းကောင်း၊ ကုမ္ပဏီအနေဖြင့်သော်လည်းကောင်း၊ လုပ်ငန်းများဆောင်ရွက်ရာတွင် တည်ဆဲဥပဒေများ၊ ဤကတိစာချုပ်ပါ စည်းကမ်းချက်များ၊ လုပ်ငန်းဆိုင်ရာ ကျင့်ဝတ်များနှင့် ဆန့်ကျင်ငြိစွန်းမည့် မည့်သည့်

အကျင့်ပျက်ခြစားမှု၊ လာဘ်ပေးလာဘ်ယူမှုကိုမျှ ခွင့်မပြု၊ မပေါ်ပေါက်စေရန် တာဝန်ခံကြရမည်။

**အာမခံထားရှိခြင်း**

၁၅။ ကုမ္ပဏီသည် မြန်မာ့အာမခံဥပဒေနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေများအရ ဖြစ်စေ၊ နိုင်ငံခြားသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရဖြစ်စေ လိုအပ်သော အာမခံများကိုထားရှိရမည်။ ထိုသို့ အာမခံထားရှိသည်အတွက် ကုန်ကျမည့်စရိတ် နှင့် ပရီမီယံများကို ကုမ္ပဏီမှ ကျခံရမည်။

**စာချုပ်စတင်အကျိုးသက်ရောက်ခြင်း**

၁၆။ ဤစာချုပ်သည် နှစ်ဖက်စာချုပ်ဝင်များသဘောတူညီချက်ဖြင့် အပိုဒ် ၅ တွင်ဖော်ပြထားသည့် လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်မည့်နေရာများတွင် လုပ်ငန်းစတင်သည့် ၁. ၁၁. ၂၀၁၃ ရက်မှစတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**စာချုပ်အတည်ဖြစ်ခြင်း**

၁၇။ ဤစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးချုပ်ဆိုပြီးချိန်တွင် အတည်ဖြစ်သည်။

**စာချုပ်သက်တမ်း**

၁၈။ ဤစာချုပ်သက်တမ်းသည် စာချုပ်အတည်ဖြစ်သည့်နေ့မှစတင်ပြီး နှစ်(၃၀)ကာလဖြစ်ပြီး၊ စာချုပ်ဝင်များ၏ သဘောတူညီချက်အရ အထက်အဖွဲ့အစည်း၏ခွင့်ပြုချက်ဖြင့် စာချုပ်သက်တမ်းအား နောက်ထပ်(၅)နှစ် (၃)ကြိမ်သက်တမ်းတိုးနိုင်သည်။

**စာချုပ်ကိုပြောင်းလဲပြင်ဆင်ဖြည့်စွက်ခြင်း**

၁၉။ ဤစာချုပ်ကို နှစ်ဖက်စာချုပ်ဝင်အားလုံးကြား စာဖြင့်ရေးသားလက်မှတ်ရေးထိုးသည့် သဘောတူညီချက် မရှိဘဲ၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊ နှုတ်ပယ်ခြင်း၊ အစားထိုးခြင်း မပြုလုပ်ရ။ ဤစာချုပ်တွင် ရေးသားဖော်ပြပေါ်လွင်ခြင်းမရှိသော အနေအထား အခြေအနေ တစ်ရပ်ရပ် ပေါ်ပေါက်လာလျှင်ဖြစ်စေ၊ စာချုပ်ပါ စည်းကမ်းချက်၊ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကို ပြင်ဆင် ထပ်မံဖြည့်စွက်ရန် လိုအပ်လာလျှင်ဖြစ်စေ၊ စာချုပ်ဝင်များသည် လိုအပ်သောညှိနှိုင်းဆွေးနွေးမှု ပြုလုပ်ကြပြီး၊ နှစ်ဖက် သဘောတူညီချက်ကို စာဖြင့် ရေးသားလက်မှတ်ရေးထိုးလျှက် ပြင်ဆင်ရမည်။ အဆိုပါ ပြင်ဆင်ချက် အား ဤစာချုပ်၏ အစိတ်အပိုင်းအဖြစ် မှတ်ယူရမည်။

**မမျှော်မှန်းနိုင်သည့်ဖြစ်ရပ်များနှင့် မလွန်ဆန်နိုင်သည့်ဘေးအန္တရာယ်များ**

၂၀. ၁။ ဤစာချုပ်ပါပြဋ္ဌာန်းချက်များနှင့် မသက်ဆိုင်စေဘဲ စာချုပ်ဝင်တစ်ဖက်ဖက်သည် စာချုပ်ပါ တာဝန်တစ်ရပ်လုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အကောင်အထည်ဖော်ဆောင်ရွက်ရန်

MYANMA ECONOMIC HOLDINGS LIMITED No. Date. YANGON

GOLD CEMENT CO., LTD.

(သို့မဟုတ်)စာချုပ်ဝင်အခြား တစ်ဖက်၏ ဆောင်ရွက်မှုကိုလက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့် အခြေအနေသို့သက်ရောက်စေသော၊ ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော မလွန်ဆန်နိုင်သည့် ဖြစ်ရပ်၊ ဘေးအန္တရာယ်ပေါ်ပေါက်ကျရောက်ခဲ့လျှင် ထိုသို့ကြုံတွေ့ရသည့် စာချုပ်ဝင်သည် ထိုဖြစ်ရပ်များ ပေါ်ပေါက် ကြုံတွေ့ရသည့် အဖြစ်အပျက်အပြည့်အစုံကို စာဖြင့်ရေးသား၍ တစ်ဘက်စာချုပ်ဝင်သို့ ယင်းသို့စတင်ကြုံတွေ့ရသည့်နေ့မှ(၁၄)ရက်အတွင်း အကြောင်းကြားရမည်။ ထိုသို့ကြုံတွေ့ရသည့်စာချုပ်ဝင်၏ အတည်ပြုမှုဖြင့် ထိုသို့မစွမ်းဆောင်နိုင်မှုပေါ်ပေါက်နေသည့်ကာလအတွက် ကင်းလွတ်ခွင့်ပြုနိုင်သည်။ ထိုပျက်ကွက်နှောင့်နှေးမှုများအတွက် မည်သည့် စာချုပ်ဝင်တွင်မျှ တာဝန်မရှိစေရ။ ထိုသို့ဖြစ်ပေါ်ခဲ့သည့် မမျှော်မှန်းနိုင်သောဖြစ်ရပ်များနှင့် မလွန်ဆန်နိုင်သည့်ဘေးအန္တရာယ်များကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ထိုက်သင့်သော အားထုတ်မှုဖြင့် ဖယ်ရှားရမည်။

၂၀.၂။ မလွန်ဆန်နိုင်သော ဘေးအန္တရာယ်များဆိုသည်မှာ အစိုးရမှတားမြစ်ချက်များ၊ သပိတ်မှောက်မှုများ၊ စစ်ဖြစ်ခြင်း၊ စီးပွားရေးပိတ်ဆို့ခြင်း၊ အဓိကရုဏ်းများဖြစ်ခြင်း၊ သူပုန်ထခြင်း၊ ကပ်ရောဂါများ၊ ဗုံးပေါက်ကွဲခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့်တစ်ဦးဦးက ထိန်းချုပ်၍မရနိုင်သော၊ ထိုက်သင့်သောဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှုဖြင့် ကျော်လွှားနိုင်ခြင်းမရှိသော အလားတူ အကြောင်းတစ်ရပ်ရပ်ကိုဆိုသည်။

လွှမ်းမိုးမည့်ဥပဒေ

၂၁။ ဤစာချုပ်အပါအဝင် ဤစာချုပ်အရ ပေါ်ပေါက်သည့် အရပ်ရပ်တာဝန်အားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေ၊ အမိန့်ကြော်ငြာစာနှင့် အကျုံးဝင်သက်ဆိုင်သည်။ ယင်းဥပဒေပြဋ္ဌာန်းချက်များ၊ စကားရပ်များ၊ အဓိပ္ပါယ်ဖွင့်ဆိုရေး ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အဓိပ္ပါယ်ဖွင့်ဆိုကောက်ယူရမည်။

အငြင်းပွားမှုဖြေရှင်းခြင်း

၂၂.၁။ စာချုပ်ဝင်များအကြား ဤစာချုပ်နှင့်စပ်လျဉ်း၍ဖြစ်စေ၊ ဤစာချုပ်မှ ဆက်စပ်၍ဖြစ်စေ၊ အငြင်းပွားမှုပေါ်ပေါက်ပါက ရှေးဦးစွာ စာချုပ်ဝင်များအကြား နှစ်ဖက်သဘောတူညှိနှိုင်းဆွေးနွေးမှုဖြင့် အငြင်းပွားမှု ပြေငြိမ်းစေရန်ဆောင်ရွက်ရမည်။

၂၂.၂။ ထိုသို့နှစ်ဖက်ညှိနှိုင်းဆွေးနွေးမှု မအောင်မြင်၊ ပြေငြိမ်းမှုမရရှိပါက အနုညာတခုံသမာဓိနည်းလမ်းဖြင့် ဖြေရှင်း အဆုံးဖြတ်ခံယူနိုင်ရန် စာချုပ်ဝင်တစ်ဖက်စီက ခုံသမာဓိလူကြီး တစ်ဦးစီ ရွေးချယ်ခန့်အပ်ပြီး၊ ဖြေရှင်းဆုံးဖြတ်စေရမည်။ သို့တိုင် သဘောတူပြေငြိမ်းမှုမရပါလျှင် အဆိုပါခုံသမာဓိလူကြီး နှစ်ဦး သဘောတူရွေးချယ်ခန့်အပ်သော အဓိကခုံသမာဓိလူကြီး (Umpire) ခန့်အပ်၍ အဆုံးအဖြတ်ခံယူရမည်။ အဆိုပါ ခုံသမာဓိလူကြီးနှစ်ဦး (သို့မဟုတ်) အဓိက ခုံသမာဓိလူကြီး၏ ဖြေရှင်းဆုံးဖြတ်ချက်သည် စာချုပ်ဝင်နှစ်ဖက်လုံးအပေါ် စည်းနှောင်မှုရှိ စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ် ၊ မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ်၊ ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ ခုံသမာဓိအဖွဲ့၊ ရုံးထိုင်အဆုံးအဖြတ်ပြုရာနေရာမှာ ရန်ကုန်မြို့တော် နယ်နိမိတ်အတွင်းဖြစ်ရမည်။ အငြင်းပွားမှု၊ ဖြေရှင်းဆောင်ရွက်မှု ကုန်ကျစရိတ် (တရားစရိတ်)ကို ရှုံးနိမ့်သူဘက်မှ ကျခံရမည်။

ရပ်စဲခြင်း

၂၃.၁။ အောက်ပါကိစ္စတစ်ရပ်ရပ် ဖြစ်ပေါ်လာပါက (နှစ်နာသူစာချုပ်ဝင်က စာဖြင့်ရေးသား၍ ရက်ပေါင်း ၉၀ ကြိုတင်အကြောင်းကြားပြီး) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ရယူပြီး ဤစာချုပ်ကို ရပ်စဲနိုင်သည်-

(က) စာချုပ်ဝင် တစ်ဖက်ဖက်က ဤစာချုပ်တွင်ဖော်ပြထားသော တာဝန်ဝတ္တရားများကို ပြည့်စုံစွာ တာဝန်ယူ မဆောင်ရွက်နိုင်ခြင်း။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (၆)လကျော်လွန်ပြီး ဆက်တိုက်ဖြစ်ပေါ်လာခြင်း။

(ဂ) စာချုပ်ဝင် တစ်ဦးဦးက စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်အား ဖောက်ဖျက်ခြင်း။

(ဃ) လုပ်ငန်းသည် အရှုံးငွေ အမြောက်အမြားဖြစ်ပေါ်လာခြင်းနှင့် အဆက်မပြတ် အရှုံးပေါ်နေခြင်း။

(င) လုပ်ငန်း၏ မူလရည်ရွယ်ချက်နှင့် ရည်မှန်းချက်များကို အကောင်အထည်ဖော်ရန် မဆောင်ရွက်နိုင်တော့ခြင်း။

(စ) စာချုပ်ဝင်များက စာချုပ်ရပ်စဲရန် စာဖြင့် ရေးသားသဘောတူခြင်း။

(ဆ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

MYANMA ECONOMIC HOLDINGS LIMITED
No.
Date.
YANGON

GOLD CEMENT CO., LTD.

၂၃.၂။ ဤသို့ရပ်စဲသည့်အခါ စာချုပ်ဝင်များ၏ တာဝန်နှင့် ရပိုင်ခွင့်များ ဆက်လက်တည်ရှိနေရပါမည်။

၂၃.၃။ ကုမ္ပဏီကို ရပ်စဲရန် ဖြစ်ပေါ်လာပါက စုဆောင်းပြီးအကျိုးအမြတ်နှင့် ပိုင်ဆိုင်ခွင့်များကို မျှတစွာခွဲဝေရန် စာချုပ်ဝင်များမှ ကြိုးစားဆောင်ရွက်ပေးရမည်။

(က) အတည်ပြုပြီးဖြစ်သည့် စာချုပ်များကို ရရှိနိုင်သမျှ အရင်းအမြစ်များဖြင့် ဖြည့်ဆည်းအကောင်အထည်ဖော်ဆောင်ရွက်ရမည်။

(ခ) စာချုပ်အသစ်များ မရေးဆွဲရန်။

(ဂ) ကုမ္ပဏီ၏ ပိုင်ဆိုင်မှုများကို အချိုးအတိုင်း စာချုပ်ဝင်များသို့ ပြန်လည်ပေးအပ်ရန်။

၂၃.၄။ ဤစာချုပ်ကို ရပ်စဲခြင်းကြောင့် စာချုပ်ဝင်များတွင် ဤစာချုပ်အရ တာဝန်ရှိသည့် လျော်ကြေးများ၊ နစ်နာကြေးများ၊ ရပိုင်ခွင့်များကို မထိခိုက်စေရ။ အဆိုပါ တာဝန်ရှိမှုများမှလည်း ကင်းလွတ်ခြင်းမရှိစေရ။

## ကုမ္ပဏီအား စာရင်းရှင်းလင်းဖျက်သိမ်းခြင်း

၂၄။ ဤစာချုပ်ရပ်စဲသည့်အခါတွင်လည်းကောင်း၊ ဘဏ္ဍာရေးနှစ်ကုန်သည့်အခါ ကုမ္ပဏီရှိ ထည့်ဝင် ရင်းနှီးထားငွေ သုံးပုံ-နှစ်ပုံထက်မနည်း ဆုံးရှုံးနေသဖြင့် စာချုပ်ဝင်တစ်ဦးဦးက ကုမ္ပဏီအား စာရင်း ရှင်းလင်းဖျက်သိမ်းပေးရန် တောင်းဆိုလာလျှင်လည်းကောင်း သက်ဆိုင်ရာ တည်ဆဲဥပဒေလုပ်ထုံး လုပ်နည်းများနှင့်အညီ ကုမ္ပဏီအား စာရင်းရှင်းလင်းဖျက်သိမ်းရန် ဆောင်ရွက်ရမည်။

## ဆက်သွယ်ဆောင်ရွက်မှု

၂၅.၁။ နို့တစ်စာများ သို့မဟုတ် အခြားအကြောင်းကြားချက်များကို မြန်မာဘာသာဖြင့် ရေးသားပြီး စာတိုက် မှတ်ပုံတင်ချောစာဖြင့် ဖြစ်စေ၊ ဖက်စ် တဲလ်လက်စ်ဖြင့် ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ စာပို့စနစ်ဖြင့် ဖြစ်စေ၊ ဆက်သား ဖြင့် ဖြစ်စေ အောက်တွင်ဖော်ပြထားသည့်အတိုင်း ပေးပို့ရမည်။

၂၅.၂။ ဤသို့ ဆက်သွယ်မှုကို တစ်ဖက်မှလက်ခံရရှိကြောင်း ပြန်ကြားချက်ရရှိသည့်အခါ ဆက်သွယ်မှုအတည် ဖြစ်ကြောင်း မှတ်ယူရမည်။ အကယ်၍ လိပ်စာပြောင်းလဲမှုရှိပါက အခြားတစ်ဖက်သို့ ပြောင်းလဲသည့်လိပ်စာကို ရေးသားအကြောင်းကြားပေးပို့ရမည်။

MYANMA ECONOMIC HOLDINGS LIMITED
No.
Date.
★ YANGON ★

GOLD CEMENT CO., LTD.

" က-အစုရှယ်ယာ "
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (MEHL)
အမှတ် (၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။
ဖက်စ်နံပါတ်- ၀၁-၃၉၇၁၈၄

" ခ- အစုရှယ်ယာ "
Gold Cement Co., Ltd (GC)
အခန်း(၁)၊အဆောင်(၂)၊ MICT Park၊ လှိုင်တက္ကသိုလ်ဝင်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။
ဖုန်းနံပါတ်- ၀၉-၇၈၀၀၁၀၅၈၀ ၊ ၀၉-၇၈၀၀၁၀၅၈၁ ၊ ဖက်စ်နံပါတ်- ၀၁-၆၅၂၂၄၈

အထွေထွေ

၂၆. ၁။ ပြီးပြည့်စုံသောသဘောတူညီချက်

ဤစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် အတည်ပြုထားသော ပြီးပြည့်စုံသောသဘောတူညီချက်ဖြစ်ပြီး ဤကိစ္စနှင့်စပ်လျဉ်း၍ ယခင်က နှုတ်ဖြင့်သော်လည်းကောင်း ၊ စာဖြင့် သော်လည်းကောင်း ဆွေးနွေးမှုများ၊ နားလည်မှုများနှင့် သဘောတူညီချက်များကိုလွှမ်းမိုးစေမည်။

၂၆. ၂။ ခွင့်ပြုလွှဲအပ်ခြင်း

စာချုပ်ပါအခွင့်အရေးနှင့် တာဝန်များကို ဤစာချုပ်ပါရည်ရွယ်ချက်များနှင့်အညီ လုပ်ငန်းပိုမိုတိုးတက်အောင်မြင်ရေးအတွက် "ခ-အစုရှယ်ယာဝင်"မှတွဲဖက် လုပ်ကိုင်သူများ နှင့်ဖြစ်စေ၊ အခြားပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်ဖြစ်စေ ပူးပေါင်းဆောင်ရွက်လိုပါက "က-အစုရှယ်ယာဝင်" ထံသို့ စာဖြင့် ရေးသားအဆိုပြုပြီး တစ်ဖက်စာချုပ်ဝင်၏ သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခွင့်ပြုချက်ရယူ၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂၆. ၃။ တရားမဝင်ခြင်း

ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း သို့မဟုတ် ဥပဒေအရ အရေးယူ ဆောင်ရွက်နိုင်မှု မပြုနိုင်ကြောင်း မည်သို့ပင်ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်အခြားစည်းကမ်းချက်များသည်ဥပဒေနှင့်အညီဆက်လက်၍ အပြည့်အဝ အကျိုး သက်ရောက်စေရမည်။

၂၆. ၄။ ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်း

ဤစာချုပ်ပါစည်းကမ်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုစည်းကမ်းချက်ကို သို့မဟုတ် စာချုပ်၏အခြားစည်းကမ်းချက် တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်ခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ သို့မဟုတ် အကျိုးခံစားခွင့် တစ်စုံတစ်ရာကို စာချုပ်ဝင်တစ်ဦးဦးက ရယူဆောင်ရွက်ရန်

ပျက်ကွက်ခြင်း သို့မဟုတ် နှောင့်နှေးခြင်းသည် ၎င်းတို့ကို စွန့်လွှတ်ရာ မရောက်စေရ။ ထို့အပြင် အဆိုပါအခွင့်အရေး၊ အခွင့်အာဏာ သို့မဟုတ် အကျိုးခံစားခွင့် တစ်ခုတည်းကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ သို့မဟုတ် အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာ မရောက်စေရ။

၂၆. ၅။ ဆန့်ကျင်ကွဲလွဲခြင်း

ဤစာချုပ်ပါ စည်းကမ်းချက်များသည် သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ အစုရှယ်ယာရှင်များ၏ သဘောတူညီချက်ပါ စည်းကမ်းချက်များနှင့် ဆန့်ကျင်ကွဲလွဲနေပါက မြန်မာနိုင်ငံကုမ္ပဏီများဆိုင်ရာ ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ သတ်မှတ်ခွင့်ပြုထားသော အတိုင်းအတာအထိသာ ဤစာချုပ်ပါ စည်းကမ်းချက်များက လွှမ်းမိုးစေရမည်။ ထို့ပြင် ဤစာချုပ်ပါစည်းကမ်းချက်များသည် စာချုပ်ဝင်များ အကြား ယခင်က နှုတ်ဖြင့်သော်လည်းကောင်း၊ စာဖြင့်သော်လည်းကောင်း ပြုလုပ်ထားသည့် ဤစာချုပ်နှင့် စပ်လျဉ်းသော ဆွေးနွေးချက်များ၊ နားလည်သဘောတူညီချက်များ အားလုံးကိုလွှမ်းမိုးသည်။

၂၆. ၆။ တစ်စိတ်တစ်ဒေသဖြစ်ခြင်း

ဤစာချုပ်တွင် ပူးတွဲဖော်ပြချက်များနှင့် နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၂၆. ၇။ စာချုပ်အစစ်အမှန်ဖြစ်ခြင်း

စာချုပ်ဝင်များသည် ဤဖက်စပ်စာချုပ်အား မြန်မာဘာသာ၊ အင်္ဂလိပ်ဘာသာဖြင့် မူရင်း (၂)စောင်စီ ပြုစု၍ လက်မှတ်ရေးထိုး ချုပ်ဆိုဆောင်ရွက်ကြပြီး စာချုပ်တစ်စောင်စီကို စာချုပ်ဝင် တစ်ဦးစီထံ၌ ထားရှိလျှက် တူညီစွာအကျိုးသက်ရောက်မှုရှိစေရမည်။ ဤစာချုပ်ပါ သဘောတူညီချက်များ၊ စည်းကမ်းချက်များ၏ အနက်အဓိပ္ပါယ်၊ သဘောအယူအဆများကို အဓိပ္ပါယ်ဖွင့်ဆိုကောက်ယူရာ၌ မြန်မာဘာသာဖြင့် ချုပ်ဆိုထားသောစာချုပ်သည်လွှမ်းမိုးမှုရှိစေရမည်။

၂၆. ၈။ ကုန်ကျစရိတ်

စာချုပ်ဝင်က ကုန်ကျသော ဥပဒေအတိုင်ပင်ခံ အကျိုးဆောင်ခနှင့် စရိတ်များ အပါအဝင်ဤစာချုပ်အတွက် ဆွေးနွေးခြင်း၊ ပြင်ဆင်ခြင်း၊ ချုပ်ဆိုခြင်း၊ ပြီးစီးအောင်ပြုလုပ်ခြင်းတို့နှင့် သက်ဆိုင်သော စာချုပ်ဝင်တစ်ဦးဦးက ကုန်ကျသည့် ဥပဒေဆိုင်ရာ၊ နည်းပညာဆိုင်ရာနှင့် ဘဏ္ဍာရေးဆိုင်ရာ ကုန်ကျစရိတ်များ၊ ဥပဒေရေးရာ စာရွက်စာတမ်းကြေးများ၊ အစိုးရသတ်မှတ်သည့် အခကြေးငွေများနှင့် အခြားစရိတ်များကို သက်ဆိုင်ရာစာချုပ်ဝင်များက ကျခံရမည်။ သို့ရာတွင် ဤစာချုပ်ပါ ဖွဲ့စည်း တည်ထောင်ထားသည့် ကုမ္ပဏီအတွက် ကုန်ကျစရိတ် များနှင့် အစိုးရမှသတ်မှတ်ထားသည့် အခွန်အခများနှင့် အစိုးရသို့ ပေးသွင်းရငွေများအား ကုမ္ပဏီမှကျခံရန် သဘောတူပါသည်။

၂၃။ ဤစာချုပ်ကို ရန်ကုန်မြို့တွင် ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ(၂၉)ရက်နေ့၌ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် အထက်ပါဖော်ပြချက်များကို နားလည်သဘောတူလက်ခံကြပြီး မိမိတို့၏ လွတ်လပ်သော သဘောတူဆန္ဒများနှင့်အညီ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် မိမိတို့၏ ရုံးတံဆိပ်များကို ခတ်နှိပ်လျှက် အသီးသီးအတည်ပြု လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်(ကိုယ်စား)

---------------------------

ဦးဝင်းကြည်
၇/ပတန (နိုင်)၀၀၉၀၆၈
ဌာနကြီးမှူး၊ထုတ်လုပ်မှုလုပ်ငန်းများဌာနကြီး
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Gold Cement Co., Ltd.(ကိုယ်စား)

---------------------------

ဦးရဲထွန်း(ခေါ်)ဦးရဲမြင့်
၁၂/ဒဂန(နိုင်)၀၂၃၂၃၁
မန်နေဂျင်းဒါရိုက်တာ
Gold Cement Co., Ltd.

"အသိသက်သေများ"

---------------------------

ဦးကျော်စိုး
ဒါရိုက်တာ(စက်မှုစီမံရေးဌာန)
ထုတ်လုပ်မှုလုပ်ငန်းများဌာနကြီး
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

---------------------------

ဒေါ်ဥမ္မာမြင့်
၁၂/စခန(နိုင်)၀၂၆၃၀၂
ဒါရိုက်တာ
Gold Cement Co., Ltd.

---------------------------

ဦးခင်ညို
ဒါရိုက်တာ(သုတေသနနှင့်ဖွံ့ဖြိုးမှုဌာန)
ထုတ်လုပ်မှုလုပ်ငန်းများဌာနကြီး
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

---------------------------

ဦးစိုးဝင်း
၃/ဘအန(နိုင်)၀၁၇၄၈၂
ဒါရိုက်တာ
Gold Cement Co., Ltd.

MYANMA ECONOMIC HOLDINGS LIMITED * YANGON
No.
Date.

GOLD CEMENT CO., LTD.

"တံဆိပ်ခေါင်းခွန် အပြည့်အဝ ထမ်းဆောင်ပြီးကြောင်း သက်သေခံလက်မှတ်"

၁။ ဤစာချုပ်သည် မြန်မာနိုင်ငံ တံဆိပ်ခေါင်း အက်ဥပဒေ ဇယား (၁) အမှတ်စဉ် ၅ (ဂ) အရ ပေါက်စေသောစာချုပ် အမျိုးအစားဖြစ်ပြီး တံဆိပ်ခေါင်းခွန် ကျပ် (၁၅၀၀၀ိ/-) ထိုက်သင့်သော စာချုပ်စာတမ်း အမျိုးအစား ဖြစ်သည်။

၂။ ဤစာချုပ်အား အသေအချာ လိုက်နာ၍ ချုပ်ဆိုခဲ့ကြောင်း ကျေနပ် လက်ခံသည်။

၃။ ဤစာချုပ်အတွက် ထိုက်သင့်လိုအပ်သော တံဆိပ်ခေါင်းခွန် ကျပ် (၁၅၀၀၀ိ/-) အား (၂၀.၁၀.၂၀၁၅) ရက်စွဲပါ ငွေသွင်းချလံ အမှတ် (၁၄၄) ဖြင့် ပေးသွင်းပြီး ဖြစ်သဖြင့် တံဆိပ်ခေါင်းခွန် အပြည့်အဝ ထမ်းဆောင်ပြီးကြောင်း သက်သေခံပါသည်။

မြို့တိုင်း အခွန်များဦးစီးဌာန
ရန်ကုန်တိုင်း
လှိုင်မြို့နယ်

(ခိုင်လှကျော်ထန်)
မြို့နယ်အခွန်ဦးစီးမှူး
လှိုင်မြို့နယ်

MYANMA ECONOMIC HOLDINGS LIMITED
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ၅၅၅ /၁၃/၁(၁၁)/ထလင-၁(ဦးပိုင်)

Date ၂၀၁၄ ခုနှစ်၊ မေလ ၃၂ ရက်

သို့

ဦးရဲထွန်း (ခ) ဦးရဲမြင့်

Managing Director

Gold Cement Co., Ltd.

အကြောင်းအရာ။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ JV ပြုလုပ်မည့် စက်ရုံ(၅)ရုံ၏ တန်ဘိုးများကို နိုင်ငံခြားငွေကြေးဖြင့် တန်ဘိုးသတ်မှတ်ချက်ပေးပို့ခြင်း

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဥ်း၍ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ပိုင်ဆိုင်သော မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်ရှိ ဆင်မင်းဘိလပ်မြေစက်ရုံ(၃)ရုံ၊ ဆဒ္ဒန်စက်အရန်ပစ္စည်းထုတ်လုပ်ရေးစက်ရုံနှင့် တော်ဝင်ပလတ်စတစ်ရက်ထည်အိတ်စက်ရုံများအား Gold Cement Co., Ltd. နှင့် အကျိုးတူပူးပေါင်း၍ Joint Venture ဆောင်ရွက်ရန်သဘောတူညီခဲ့ရာ ယင်းစက်ရုံ(၅)ရုံ၏ ပုံသေပိုင်တန်ဘိုးများနှင့် အစပျိုးစရိတ်များသည် (၃၀. ၁၀. ၂၀၁၃)ရက်နေ့ စာအုပ်တင်တန်ဘိုးအရ မြန်မာကျပ်ငွေ ၅၃,၂၁၈,၄၉၃,၈၁၃. ၉၄/- ရှိပါကြောင်း အကြောင်းကြားအပ်ပါသည်။ သို့ဖြစ်ပါ၍ ယင်းကျပ်ငွေများကို (၃၁. ၁၀. ၂၀၁၃)ရက်နေ့ ငွေလဲလှယ်နှုန်းအရ တစ်ဒေါ်လာလျှင် ၉၇၂ ကျပ် ဖြင့် တွက်ချက်ပါက စုစုပေါင်း တန်ဘိုး အမေရိကန်ဒေါ်လာသန်းပေါင်း (၅၄. ၇၅)သန်း နှင့်ညီမျှကြောင်း ဖော်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဦးဝင်းကြည်၊ ဌာနကြီးမှူး

မိတ္တူကို

ဌာနကြီးမှူး(အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး)

ဒါရိုက်တာ (ဘဏ္ဍာရေးနှင့်ငွေစာရင်းဌာန)

ကွပ်ကဲရေးမှူး၊ စက်ရုံအုပ်စု(၂)

ရုံးလက်ခံ

D/All Pg/Letter Head/Myanmar New/3/6

# GOLD CEMENT CO., LTD & MYANMAR ECONOMIC HOLDING CO.,LTD

## JOINT VENTURE AGREEMENT

## Book Value of Non Current Assets On 31 October 2013

| Particular | Sinminn (1) | Sinminn (2) | Sinminn (3) | Taw Win | Sadan | Total |
|---|---|---|---|---|---|---|
| | KS | KS | KS | KS | KS | KS |
| Non Current Assets | 5,042,400,972.00 | 7,971,749,944.98 | 33,887,624,918.00 | 2,355,321,262.08 | 3,859,633,050.89 | 53,116,730,147.95 |
| Preliminery Expenses | - | - | 57,794,881.71 | - | 43,968,784.28 | 101,763,665.99 |
| | 5,042,400,972.00 | 7,971,749,944.98 | 33,945,419,799.71 | 2,355,321,262.08 | 3,903,601,835.17 | 53,218,493,813.94 |

GOLD CEMENT CO., LTD.

နောက်ဆက်တွဲ (က-၂)

GOLD CEMENT COMPANY LIMITED

To

Myanmar Economic Holdings Limited
No. 189-191, Maharbandula Street, BotahtaungTownship
Yangon Region, Myanmar

Subject: Investment for modification of Sinmin Line 2

Regarding the subject, hereby present the cost for the modification and renovation (Turnkey) of Sinmin Line 2 from 700 TPD to 1050 TPD with the document attached herewith.

| SCOPE | SPECIFICATION | | PRICE (USD) |
|---|---|---|---|
| A | Engineering, Mechanical and Electrical Equipment, Control, Transformer and Automation, Supervision for Erection, Start Up and Commissioning and Spare Parts | LVT | 16,560,000 |
| B, C | Installation, Fabrication, Civil, Steel Structure and Piping, Painting, Logistics & Transport | GCC | 10,540,000 |
| | Sub Total | | 27,100,000 |
| A | 6 MW Gas Generators | | 6,100,000 |
| B, C | Investment in working capital | | 3,300,000 |
| | Total | | 36,500,000 |

This cost will be the investment of Gold Cement in the Joint Venture formed between Gold Cement Company Limited and Myanmar Economic Holdings Limited.

Sincerely,

GOLD CEMENT CO., LTD.

U Ye Myint @ U Ye Htut
Managing Director
Gold Cement Company Limited

နောက်ဆက်တွဲ (က-၂)

# Gold Cement Company Limited

## နိုင်ငံခြားမှတင်သွင်းမည့်စက်ပစ္စည်းများစာရင်း

| Sr. | Particular | Qty | Total (USD) |
|---|---|---|---|
| | Engineering, Mechanical and Electrical Equipment, Control, Transformer & Automation, Supervision for Erection, Start Up and Commissioning and Spare Parts | | |
| 1 | Raw Material Crushing, Equipments, Designs and Engineering | 1 Lot | 1,454,960 |
| 2 | Raw Mill Pregrinding, Equipments and Accessories | 1 Lot | 2,669,597 |
| 3 | Bucket Elevators and Kiln Feeding | 1 Lot | 721,325 |
| 4 | Main Bag House, Clinker Cooler, Top Cyclone and Pan Conveyor | 1 Lot | 5,019,705 |
| 5 | Coal Mill I.V Classifier and Venting Fan | 1 Lot | 871,572 |
| 6 | Cement Mill I.V Classifier and Mill Fan | 1 Lot | 1,461,206 |
| 7 | Electrical Equipment, Transformer, Control and Automation with cable and wiring system | 1 Lot | 3,401,987 |
| 8 | Spare Parts for 2 years | 1 Lot | 959,648 |
| 9 | Generators, 1 MW | 6 units | 6,100,000 |
| | Grand Total | | 22,660,000 |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ 008409

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ...၂၁၉၈....... / ၂၀၁၄-၂၀၁၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ...ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း...

...ကုမ္ပဏီ လီမိတက်......အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ..၂၀၁၄.. ခုနှစ်၊ ...ဩဂုတ်... လ၊ ..၁... ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

(နီလာမူ၊ ဒုတိယညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ......2198...... of 2014-2015

I hereby certify that ......SINMINN CEMENT INDUSTRY COMPANY...... LIMITED ......is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this ......FIRST...... day of ......AUGUST, TWO THOUSAND AND FOURTEEN......

For Director General

( Nilar Mu, Deputy Director )

Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ Gold Cement Co.,Ltd ကိုယ်စားပြုသူ ဦးရဲမြင့်(ခ)ရဲထွန်း ၁၂/ဒဂန(နိုင်)၀၂၃၂၃၃ ........

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အဆောင်-၂၊ အခန်း(၁)၊ MICT Park၊ လှိုင်တက္ကသိုလ်ဝင်း ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁ ၅၂၃၅၀၄၊ ၀၁ ၆၅၂၂၄၈

(ဃ) ဒါရိုက်တာများ အမည်စာရင်း-

| Gold Cement Co.,Ltd ကိုယ်စားပြုသူ | Myanmar Economic Holdings Ltd.ကိုယ်စားပြုသူ | |
|---|---|---|
| (၁) ဒေါ်ဥမ္မာမြင့် ၁၂/စခန(နိုင်)၀၂၆၃၀၂ | (၁)ဦးကျော်စိုး ၁၂/မရက(နိုင်)၀၃၁၁၀၅ | (၄)ဦးကျော်မြင့် ၁၂/မရက(နိုင်)၀၃၁၁၈၀ |
| (၂) ဦးစောစိုးဝင်း ၃/ဘအန(နိုင်)၀၁၇၄၈၂ | (၂)ဦးခင်ညို ၇/ပတန(နိုင်)၀၇၆၈၆၇ | |
| | (၃)ဦးတင်ဝင်း ၈/မလန(နိုင်)၀၀၄၇၉၇ | |

မှတ်ချက် ။

(၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁-၈-၂၀၁၄ )မှ ( ၃၁-၇-၂၀၁၉ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေးဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(လေးနိုင်၊ ဒုတိယညွှန်ကြားရေးမှူး)

လာရောက်ထုတ်ယူသည့် ရက်စွဲ၊
04 AUG 2014

Attachment D-1

3

Passport No.
AA3370804

หนังสือเดินทางฉบับนี้ มี 66 หน้า
This passport contains 66 pages

รายการบันทึก
ENDORSEMENTS

**Thailand**

PASSPORT
หนังสือเดินทาง



Type / รหัส: P

Country Code / ประเทศ: THA

Passport No. / หนังสือเดินทางเลขที่: AA3370804

Surname / นามสกุล: CHOLSAIPANT

Title / Name / คำนำหน้าชื่อ / ชื่อ: MR. NATTHI

Name in Thai / ชื่อภาษาไทย: นาย นัทธี ชลสายพันธ์

Nationality / สัญชาติ: THAI

Date of birth / วันเกิด: 30 SEP 1960

Identification No. / เลขประจำตัวประชาชน: 3102001610827

Sex / เพศ: M

Height / ส่วนสูง: 1.77

Place of birth / สถานที่เกิด: BANGKOK

Date of issue / วันที่ออก: 08 SEP 2014

Issuing Authority / ออกให้โดย: MINISTRY OF FOREIGN AFFAIRS

Date of expiry / วันที่หมดอายุ: 07 SEP 2019

Holder's Signature / ลายมือชื่อผู้ถือหนังสือเดินทาง

2

P<THACHOLSAIPANT<<NATTHI<<<<<<<<<<<<<<<<<<<<<<<

AA33708045THA6009304M1909074310200161082 7<96

Attachment D-2



3

หนังสือเดินทางฉบับนี้ มี ๖๖ หน้า
This passport contains 66 pages

Passport No.
AA4 396292

รายการบันทึก
ENDORSEMENTS

Thailand

PASSPORT
หนังสือเดินทาง

Type / รหัส: P
Country Code / ประเทศ: THA
Passport No. / หนังสือเดินทางเลขที่: AA4396292
Surname / นามสกุล: CHOLSAIPANT
Title / Name / คำนำหน้าชื่อ / ชื่อ: MRS. SOMSRI
Name in Thai / ชื่อภาษาไทย: นาง สมศรี ชลสายพันธ์
Nationality / สัญชาติ: THAI
Date of birth / วันเกิด: 08 JUL 1958
Identification No. / เลขประจำตัวประชาชน: 3100701220981
Sex / เพศ: F
Height / ส่วนสูง: 1.49
Place of birth / สถานที่เกิด: BANGKOK
Date of issue / วันที่ออก: 27 FEB 2015
Issuing Authority / ออกให้โดย: MINISTRY OF FOREIGN AFFAIRS
Date of expiry / วันที่หมดอายุ: 26 FEB 2020
Holder's Signature / ลายมือชื่อผู้ถือหนังสือเดินทาง

2

P<THACHOLSAIPANT<<SOMSRI<<<<<<<<<<<<<<<<<<<<<
AA43962921THA5807086F2002260310070122098 1<26

